




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အတည်ပြုမိန့်

အတည်ပြုအမိန့်အမှတ် ၀၉၄ / ၂၀၁၈ ၂၀၁၈ ခုနှစ်၊ မတ် လ ၂၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဃ) အရ ဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဒေါ်ဝတ်ရည်ထွေး

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၁၉၊ ကံကော်ဖြူခြံ၊ မဟာမြိုင်လမ်း၊ ကျွန်းတော်အလယ်ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၊ အမှတ်-၄၅၊ ပြည်လမ်း၊ တော်ဝင်စင်တာ၊ ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်းခုတင်(၈၀၀)

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) အမှတ်(၆/၈)၊ စကားဝါလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၅၂,၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၂၆.၅၄ သန်းအပါအဝင် စုစုပေါင်းကျပ် ငါးသောင်းနှစ်ထောင်သန်းတိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၂ နှစ်

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်

TAW WIN FAMILY CONSTRUCTION COMPANY LIMITED

(တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

27.3.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/အ-၀၂၄/၂၀၁၈ (၁၀၆၁)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ်လ ၂၇ ရက်

အကြောင်းအရာ။ **Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) ၏ ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်းခုတင်(၈၀၀) အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) ၏ ၂၃-၂-၂၀၁၈ ရက်စွဲပါစာ

၁။ Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) မှ အမှတ် (၆/၈)၊ စကားဝါလမ်း၊ မြေကွက်အမှတ်-၁၅၃၊ မြေတိုင်းရပ်ကွက်အမှတ်-၄၆(B)၊ ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ ၁.၂၀၈ ဧကတွင် ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်းခုတင်(၈၀၀)အားမြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြလာခြင်း အား ၂၀၁၈ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၄/၂၀၁၈) ကြိမ်မြောက်အစည်းအဝေး၌တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) အား ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်းခုတင်(၈၀၀) ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့် အမှတ်၊ ၀၉၄/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက် ရမည်-

(က) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၈) ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

**ကန့်သတ်**

(ခ) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၂) အရ မြေအသုံးပြုခွင့် လျှောက်ထားနိုင်သည်။

(ဂ) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ **ဝန်ဆောင်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်** များအဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဃ) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့ တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(စ) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဆ) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး ၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဇ) Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်း

ဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့်ပတ်သက်၍ မြေအသုံးချမှုပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာဥပဒေနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြသွားရမည်။

၄။ Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာ ဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ပေးပို့ရမည်။

27.3.18

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရန်ကုန်တိုင်းဒေသကြီး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Taw Win Family Construction Co., Ltd. (တော်ဝင်မိသားစုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)